


# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်




# ခွင့်ပြုမိန့်

ခွင့်ပြုမိန့်အမှတ်၊ မနသ-...၆၁၆.../၂၀၀၃ ။ ၂၀၀၃ ခုနှစ်၊ မေ လ ၂ ရက်။

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၀ အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်။

(က) ရင်းနှီးမြှုပ်နှံသူ၏ အမည် ...ဦး မောင်ပြုံး...

(ခ) အဘအမည် ...ဦး တင်မွေး...

(ဂ) နိုင်ငံသား/အမျိုးသားမှတ်ပုံတင်အမှတ် ...၁၂/လသန(နိုင်)၀၀၀၂၁၄...

(ဃ) နေရပ်လိပ်စာ ...အမှတ်(၅၀)၊ ဒုတိယထပ်၊ (၂၃)လမ်း၊ လသာမြို့နယ်၊ ရန်ကုန်မြို့...

(င) ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့်အဖွဲ့အစည်း ...ဝင်း တား စတား အင်တာပရိုက်(စ်) (Winter Star Enterprise)...

(စ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် လုပ်ငန်းအမျိုးအစား ...CMP စနစ်ဖြင့် နိုင်ငံတကာအဆင့်မီ အဝတ်အထည်အမျိုးမျိုး ချုပ်လုပ်ခြင်း...

(ဆ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့် အရပ်ဒေသ(များ) ...တပ်မတော်အထည်ချုပ်စက်ရုံဝင်း၊ မင်္ဂလာဒုံမြို့နယ်၊ ရန်ကုန်တိုင်း...

(ဇ) မတည်ငွေရင်းပမာဏ(ကျပ်) ...(၁၀,၂၇)သန်း (ကျပ်တစ်ဆယ်သန်း၊ နှစ်သိန်း၊ ခုနှစ်သောင်း)

ဥက္ကဋ္ဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
အမိန့် ကြော်ငြာစာအမှတ်၊ ၆၃ /၂၀၀၃ (မနသ)
ရန်ကုန်မြို့၊ ၁၃၆၅ ခုနှစ်၊ ကဆုန်လဆန်း ၇ ရက်
(၂၀၀၃ ခုနှစ်၊ မေလ ၇ ရက်)

၁။ ဝင်းတားစတား အင်တာပရိုက်(စ်) (Winter Star Enterprise) သည် ကာကွယ်ရေး ဝန်ကြီးဌာနပိုင်၊ တပ်မတော် အထည်ချုပ်စက်ရုံဝင်း၊ မင်္ဂလာဒုံမြို့နယ်၊ ရန်ကုန်တိုင်းရှိ မြေဧရိယာ (၀.၃၂)ဧက (၁၂၉၅ စတုရန်းမီတာ)နှင့် ယင်းမြေပေါ်ရှိ အဆောက်အဦအား ငှါးရမ်း ဆောင်ရွက်လျက်ရှိသော CMP စနစ်ဖြင့် နိုင်ငံတကာ အဆင့်မီ အဝတ်အထည်အမျိုးမျိုး ချုပ်လုပ်ခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာပါသည်။ ယင်းလုပ်ငန်းမှာ မူလက ကော်မရှင် ခွင့်ပြုမိန့်ဖြင့် မဟုတ်ပဲ၊ အထည်ချုပ် လုပ်ငန်း ဆောင်ရွက်လျက်ရှိပါသည်။ ယခုအခါ CMP လက်ခစားလုပ်ငန်းများ စိစစ်ရေး ကော်မတီမှတဆင့် စိစစ်ပြီး တင်ပြလာပါ၍ (၂၈-၂-၂၀၀၃) နေ့တွင် ကျင်းပပြုလုပ်ခဲ့သည့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၇/၂၀၀၃) အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။ ကော်မရှင်မှ မူအားဖြင့် သဘောတူညီခဲ့ပြီး (၁၃-၃-၂၀၀၃) နေ့တွင် ကျင်းပသော ကုန်သွယ်မှု မူဝါဒ ကောင်စီ၏ (၉/၂၀၀၃) အစည်းအဝေးသို့ ဆက်လက် တင်ပြခဲ့ပါသည်။ အဆိုပါ အစည်းအဝေးမှ သဘောတူညီချက်အရ အစိုးရအဖွဲ့သို့ ဆက်လက်တင်ပြရန် ဆုံးဖြတ်ချက်နှင့်အညီ (၂၄-၄-၂၀၀၃)နေ့တွင် ကျင်းပပြုလုပ်သည့် ပြည်ထောင်စု မြန်မာနိုင်ငံတော် အစိုးရအဖွဲ့၏ (၁၃/၂၀၀၃) အစည်းအဝေးသို့ တင်ပြခဲ့ရာ ယင်းအစည်းအဝေးမှ သဘောတူကြောင်း ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါ ဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း (၅)၊ ပုဒ်မ ၁၀ အရ အပ်နှင်း ထားသော လုပ်ပိုင်ခွင့်များကို ကျင့်သုံးလျက် ဝင်းတားစတား အင်တာပရိုက်(စ်) (Winter Star Enterprise) အား မြန်မာ နိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ CMP စနစ်ဖြင့် နိုင်ငံတကာ အဆင့်မီ အဝတ်အထည်အမျိုးမျိုး ချုပ်လုပ်ခြင်းလုပ်ငန်း ဆက်လက် ဆောင်ရွက်နိုင်ရန် အတွက် ခွင့်ပြုမိန့် အမှတ်၊ မနသ- ၆၁၆/၂၀၀၃ ကို ထုတ်ပေးလိုက်သည်။

၂။ ဝင်းတားစတား အင်တာပရိုက်(စ်) (Winter Star Enterprise) အနေဖြင့် ဤခွင့်ပြုမိန့် အရ ထုတ်လုပ်မှု လုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၇)၊ ဥပဒေ ပုဒ်မ ၁၂ အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ တရားဝင်ခွင့်ပြုသည့် (၇ -၅-၂၀၀၃)နေ့မှ အစပြု၍ တစ်ဆက်တည်း (၃)နှစ်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့်နှင့် ဥပဒေ ပုဒ်မ ၁၃ ပါ ပြဋ္ဌာန်းချက်များနှင့်အညီ အောက်ဖော်ပြပါ အခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုနိုင်ရန် ဤအမိန့် ကြော်ငြာစာကို ထုတ်ပြန် လိုက်သည်။

(က) ဥပဒေပုဒ်မ ၁၃(ခ)အရလုပ်ငန်းက နိုင်ငံခြားသို့ တင်ပို့ရောင်းချခြင်းမှ နိုင်ငံခြားငွေဖြင့်ရရှိသည့် အမြတ်ငွေအပေါ်တွင် (၅၀) ရာခိုင်နှုန်းအထိ ကာလအကန့်အသတ်ဖြင့် ဝင်ငွေခွန် သက်သာခွင့် ခံစားနိုင်ရန် အတွက်ဝင်ငွေခွန်ကင်းလွတ်ခွင့် (၃)နှစ် ခံစားပြီးနောက် လုပ်ငန်း၏ အမှန်တကယ် အကောင်အထည် ဖော်နိုင်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြ လျှောက်ထားရမည်။

(ခ) ဥပဒေပုဒ်မ ၁၃(ဂ)အရ ထုတ်လုပ်မှုလုပ်ငန်းကြောင့် သတ်မှတ်သည့်နှုန်းအထိ ပြည်တွင်းပြည်ပ ဝင်ငွေ

တိုးတက်မှုရှိပါက သတ်မှတ်ချက်နှင့်အညီ ဝင်ငွေခွန်သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန်ကင်းလွတ်ခွင့်ကာလကုန်ဆုံးပြီးသည့်အခါလုပ်ငန်းအကောင်အထည်ဖော် ဆောင်ရွက်နိုင်မှုအခြေအနေကိုဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဂ) ဥပဒေပုဒ်မ ၁၃(စ)အရ လုပ်ငန်းမှ ရရှိသည့် အမြတ်ငွေကို သီးသန့် ရန်ပုံငွေထား၍ (တစ်)နှစ် အတွင်း လုပ်ငန်း၌ ပြန်လည် ရင်းနှီးမြှုပ်နှံလျှင် ထိုအမြတ်ငွေအပေါ်တွင် ဝင်ငွေခွန်ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့်ခံစားနိုင်ရန်အတွက် ဝင်ငွေခွန်ကင်းလွတ်ခွင့် ကာလကုန်ဆုံးပြီး၍ အမှန်တကယ် ပြန်လည် ရင်းနှီးမြှုပ်နှံမှုပြုသည့်အခါ လုပ်ငန်းအမှန်တကယ် အကောင်အထည်ဖော်နိုင်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြ လျှောက်ထားရမည်။

(ဃ) ဥပဒေပုဒ်မ ၁၃(ဆ)အရ လုပ်ငန်းသုံး မတည်ပစ္စည်းများ အပေါ်တန်ဖိုးလျော့ငွေကို သတ်မှတ်သည့် နှုန်းအတိုင်း နှစ်တိုတို နှင့် မူလတန်ဖိုး ပြည့်မီသည်အထိ အမြတ်ငွေမှ နုတ်ပယ်ခွင့်နှင့် စပ်လျဉ်း၍ ယင်း တန်ဖိုးလျော့ နှုန်းထားများကို ဤကော်မရှင်သို့ တင်ပြ လျှောက်ထားရမည်။

(င) ဥပဒေပုဒ်မ ၁၃(ဈ)အရ သတ်မှတ်ထားသည့် ကနဦး ရင်းနှီးမြှုပ်နှံမှု ကာလကုန်ဆုံး၍ ပထမ (၃)နှစ် အတွက် ကုန်ထုတ်လုပ်ရန် ပြည်ပမှ တင်သွင်းသည့် လုပ်ငန်းသုံး ပစ္စည်းများ အပေါ်တွင် အကောက်ခွန်နှင့် အခြားပြည်တွင်း အခွန်အကောက်များကို ကင်းလွတ် ခွင့်ပြုသည်။

(စ) ဥပဒေပုဒ်မ ၁၃(ည)အရ ထုတ်လုပ်မည့်ကုန်ပစ္စည်းများကို ပြည်ပသို့တင်ပို့ရောင်းချမှုအပေါ် ကုန်သွယ် လုပ်ငန်းခွန် ကင်းလွတ်ခွင့်ပြုသည်။

၃။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၃(ဈ) အရ ပြည်ပမှ တင်သွင်းသည့် လုပ်ငန်းသုံးပစ္စည်းများနှင့် ပတ်သက်၍ အောက်ပါအတိုင်း လိုက်နာ ဆောင်ရွက်ရမည်။

(က) ပြည်ပမှတင်သွင်းမည့် ပစ္စည်းများအတွက် နိုင်ငံခြားငွေ ရရှိပုံနည်းလမ်း (Source of Payments for Import) ကို ဖော်ပြရန်။

(ခ) တင်သွင်းမည့် ပစ္စည်းအမျိုးအစား၊ အရည်အသွေး၊ စံချိန်စံညွှန်းများ၊ ဈေးနှုန်းများ သင့်မြတ်မှု စသည်တို့နှင့် စပ်လျဉ်း၍ နိုင်ငံတကာ အသိအမှတ်ပြုထားသည့် စစ်ဆေးရေးကိုယ်စားလှယ် (Inspection Agency) ၏ စစ်ဆေးမှုဖြင့် ဆောင်ရွက်ရန်။

(ဂ) စစ်ဆေးရေး ကိုယ်စားလှယ်၏ စစ်ဆေးပြီးကြောင်း အထောက်အထား (Inspection Certificate) ဖြင့်တင်သွင်းမည့် ပစ္စည်းအမျိုးအစား စာရင်း (Invoice and Packing List) များကို နိုင်ငံခြား မတည်ငွေရင်း တန်ဖိုး သတ်မှတ်ရေးအဖွဲ့ငယ်သို့ တင်ပြ၍ ထောက်ခံချက် ရယူရန်။

၄။ ဝင်းတားစတား အင်တာပရိုက်(စ်) (Winter Star Enterprise) သည် ဤခွင့်ပြုမိန့်အရ လုပ်ငန်း ဆောင်ရွက်ရာတွင် မူလအဆိုပြုလွှာ၌ ဖော်ပြထားသည့် ထုတ်လုပ်မှုနှင့် ပြည်ပတင်ပို့မှု ရည်မှန်းချက်များကို အနိမ့်ဆုံး ရည်မှန်းချက်များအဖြစ်ထားရှိဆောင်ရွက် အကောင်အထည်ဖော်ရမည်။

၅။ ဝင်းတားစတား အင်တာပရိုက်(စ်) (Winter Star Enterprise) သည် လုပ်ငန်း ဆောင်ရွက်မှုအတွက် နိုင်ငံခြားငွေဖြင့် ရရှိသော အမှန်တကယ်ချုပ်ခရငွေများကို မြန်မာ့နိုင်ငံခြား ကုန်သွယ်မှု ဘဏ်/ မြန်မာ့ ရင်းနှီးမြှုပ်နှံမှုနှင့် ကူးသန်းရောင်းဝယ်ရေးဘဏ်ရှိ မိမိ၏ ငွေစာရင်းသို့ မပျက်မကွက် ပေးသွင်းစေရမည်။ အလုပ်သမား များအတွက် လုပ်အားခပေးရန် အမှန်တကယ်ချုပ်ခရငွေ(နိုင်ငံခြားငွေ)များကို သတ်မှတ်ခွင့်ပြုထားသည့် MONEY CHANGER များတွင် FEC လဲလှယ်ပြီး မိမိတို့၏ အလုပ်သမားများအား လုပ်ခလစာများ ပေးရမည်။

၆။ ဝင်းတားစတား အင်တာပရိုက်(စ်) (Winter Star Enterprise) သည် ဤအဆိုပြု လုပ်ငန်း၏ စာရင်းများကို သီးခြား ပြုစုထားရှိရမည်။

၇။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် မြေအသုံးပြုမှုနှင့် စပ်လျဉ်း၍ နိုင်ငံတော် အစိုးရမှ မြေယာ နှင့် ပတ်သက်၍ သတ်မှတ် ပြဋ္ဌာန်းမည့် စည်းကမ်းသတ်မှတ်ချက်များကို တိကျစွာ လိုက်နာဆောင်ရွက်ရမည်။

၈။ ဝင်းတားစတား အင်တာပရိုက်(စ်) (Winter Star Enterprise) သည် အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန် အတွက် ပြည်တွင်းအလုပ်သမားများ ခန့်ထားရာတွင် အလုပ်သမား ဝန်ကြီးဌာန၊ အလုပ်သမား ညွှန်ကြားရေး ဦးစီးဌာန နှင့် ညှိနှိုင်း ဆောင်ရွက်ရမည်။

၉။ ဝင်းတားစတား အင်တာပရိုက်(စ်) (Winter Star Enterprise)သည် ဤခွင့်ပြုမိန့် အရ ထုတ်လုပ်မှုလုပ်ငန်း ဆောင်ရွက်ရာ၌ ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထု ညစ်ညမ်းမှု၊ မီးဘေးအန္တရာယ် စသည်များ၊ မဖြစ်ပေါ် စေရန် အတွက် လိုအပ်သည့် ပတ်ဝန်းကျင် ညစ်ညမ်းမှု ထိန်းသိမ်း ကာကွယ်ရေး အစီအမံများကို ဝန်ခံဂတိ ပြုထားသည့် အတိုင်း စံနစ်တကျထားရှိ ဆောင်ရွက်ရမည်။ ယင်းသို့ ဆောင်ရွက်ထားရှိမှု အခြေအနေကို ဤကော်မရှင်သို့ မပျက်မကွက် အစီရင်ခံရမည်။

၁၀။ ဝင်းတားစတား အင်တာပရိုက်(စ်) (Winter Star Enterprise) သည် ပူးတွဲပါ ကနဦး လုပ်ငန်း ဆောင်ရွက်မှု အစီရင်ခံစာကို ဤခွင့်ပြုမိန့်ရရှိပြီး ကော်မရှင်သို့ မပျက်မကွက် အစီရင်ခံရမည်။ ထို့အပြင် လုပ်ငန်း အကောင်အထည် ဖော်မှုအခြေအနေများကို သတ်မှတ်ထားသော ပုံစံဇယားများဖြင့် (၆)လတစ်ကြိမ် (ဧပြီ/ အောက်တိုဘာလများ) မပျက်မကွက် ပုံမှန်ပေးပို့ အစီရင်ခံရမည်။

၁၁။ ဤကော်မရှင်မှ တရားဝင်ခွင့်ပြုသည့် (၇-၅-၂၀၀၃) နေ့ကို ဝင်းတားစတား အင်တာပရိုက်(စ်) (Winter Star Enterprise)၏ အဆိုပြုလုပ်ငန်း စီးပွားဖြစ် စတင်ဆောင်ရွက်သည့်နေ့အဖြစ် သတ်မှတ် သည်။

၁၂။ ဤခွင့်ပြုမိန့် ထုတ်ပေးသည့် နေ့မှစ၍ (တစ်)နှစ်အတွင်း အဆိုပြုလုပ်ငန်း ဆက်လက် ဆောင်ရွက်ခြင်း မပြုနိုင်ပါက ဤခွင့်ပြုမိန့်သည် အလိုအလျောက် ပျက်ပြယ်ပြီးဖြစ်သည်ဟု မှတ်ယူရမည်။

၁၃။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် ခွင့်ပြုမိန့်တွင် ဖော်ပြထားသည့် ရင်းနှီးမြှုပ်နှံမှု ပြုလုပ်သည့် နေရပ်ဒေသလိပ်စာနှင့် ရင်းနှီးမြှုပ်နှံသူ၏ အဖွဲ့အစည်း၏နေရပ်လိပ်စာ (ရုံးခန်းလိပ်စာနှင့် တယ်လီဖုန်းနံပါတ်)တို့ ပြောင်းလဲမှုရှိတိုင်း ဤကော်မရှင်သို့ မပျက်မကွက် တင်ပြ၍ အတည်ပြုခွင့်ပြုချက်ကို ရယူရမည်။

၁၄။ ဝင်းတားစတား အင်တာပရိုက်(စ်) (Winter Star Enterprise)သည် မြန်မာနိုင်ငံ ရင်းနှီး မြှုပ်နှံမှု ကော်မရှင်နှင့် သက်ဆိုင်ရာ ဝန်ကြီးဌာနများမှ ချမှတ်ထားသော တည်ဆဲ စည်းမျဉ်းစည်းကမ်း သတ်မှတ်ချက်များကို လိုက်နာဆောင်ရွက်ခြင်း မရှိကြောင်း စစ်ဆေးတွေ့ရှိပါက ဤခွင့်ပြုမိန့်ကို ပြန်လည်ရုပ်သိမ်းသည်အထိ အရေးယူခြင်းခံရမည်။

၁၅။ အဆိုပြုလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ရမည်ဖြစ်သဖြင့် မည်သည့် နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းကမျှ ပိုင်ဆိုင်ခြင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲခြင်း မရှိစေရ။ အကယ်၍ နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းက ပိုင်ဆိုင်ကြောင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲကြောင်း သက်ဆိုင်ရာက စစ်ဆေးတွေ့ရှိလျှင် ပုဂ္ဂလိက စက်မှုလုပ်ငန်း မှတ်ပုံတင်ကို ပယ်ဖျက်ပြီး စက်ရုံ ပိတ်သိမ်းနိုင်ရေးအတွက် သက်ဆိုင်ရာ အစိုးရဌာန၊ အဖွဲ့အစည်းနှင့် ညှိနှိုင်းဆောင်ရွက်မည့်အပြင် လုပ်ငန်းအဆိုပြုသူသည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၅(င)အရ နောင်တွင် မည်သည့်ခွင့်ပြုမိန့်မျှ ထုတ်ပေးမည် မဟုတ်သော နာမည်ပျက်စာရင်း၌ ထည့်သွင်းခြင်းခံရမည်။

( ဦးသောင်း )
ဥက္ကဋ္ဌ

စာအမှတ်၊ ရက-၁/မ-၈၇၂/၂၀၀၃ (၅၆၀ - ဆ)
ရက်စွဲ၊ ၂၀၀၃ ခုနှစ်၊ မေလ ၇ ရက်။

ဖြန့်ဝေခြင်း-

၁။ နိုင်ငံတော် အေးချမ်းသာယာရေး နှင့် ဖွံ့ဖြိုးရေး ကောင်စီ ဥက္ကဋ္ဌရုံး။
၂။ နိုင်ငံတော် အေးချမ်းသာယာရေး နှင့် ဖွံ့ဖြိုးရေး ကောင်စီ ရုံး။
၃။ အစိုးရအဖွဲ့ရုံး။
၄။ ကာကွယ်ရေး ဝန်ကြီးဌာန၊ စစ်ထောက်ချုပ်ရုံး။
၅။ ကာကွယ်ရေး ဝန်ကြီးဌာန၊ တပ်မတော်ထောက်လှမ်းရေး ဌာနချုပ်ရုံး၊ (ပြည်တွင်းထောက်လှမ်းရေးဌာန)။
၆။ ရန်ကုန်တိုင်း စစ်ဌာနချုပ်။
၇။ အမှတ်(၁)စက်မှုဝန်ကြီးဌာန။
၈။ အမျိုးသား စီမံကိန်း နှင့် စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာန။
၉။ အလုပ်သမား ဝန်ကြီးဌာန။
၁၀။ စီးပွားရေး နှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာန။
၁၁။ ဆက်သွယ်ရေး၊ စာတိုက် နှင့် ကြေးနန်း ဝန်ကြီးဌာန။
၁၂။ ဘဏ္ဍာရေး နှင့် အခွန်ဝန်ကြီးဌာန။

၁၃။ လူဝင်မှု ကြီးကြပ်ရေး နှင့် ပြည်သူ့အင်အား ဝန်ကြီးဌာန။

၁၄။ လျှပ်စစ်စွမ်းအား ဝန်ကြီးဌာန။

၁၅။ ဥက္ကဋ္ဌ၊ CMP လက်ခစားလုပ်ငန်းများ စိစစ်ရေးကော်မတီ။ (အမှတ်(၁) စက်မှုဝန်ကြီးဌာန)

၁၆။ ဥက္ကဋ္ဌ၊ နိုင်ငံခြားမတည်ငွေရင်းတန်ဖိုး သတ်မှတ်ရေး အဖွဲ့ငယ်။

၁၇။ ဥက္ကဋ္ဌ၊ မြန်မာနိုင်ငံတော် ဗဟိုဘဏ်။

၁၈။ ညွှန်ကြားရေးမှူးချုပ်၊ စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေး ဦးစီးဌာန။

၁၉။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ အထည်အလိပ်လုပ်ငန်း။

၂၀။ ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှု နှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန။

၂၁။ ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမား ညွှန်ကြားရေး ဦးစီးဌာန။

၂၂။ ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေး ညွှန်ကြားမှု ဦးစီးဌာန။

၂၃။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ ဆက်သွယ်ရေး လုပ်ငန်း။

၂၄။ ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန် ဦးစီးဌာန။

၂၅။ ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်း အခွန်များ ဦးစီးဌာန။

၂၆။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ အာမခံ လုပ်ငန်း။

၂၇။ ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှုကြီးကြပ်ရေးနှင့် အမျိုးသားမှတ်ပုံတင်ရေး ဦးစီးဌာန။

၂၈။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ လျှပ်စစ်ဓါတ်အား လုပ်ငန်း။

၂၉။ ဥက္ကဋ္ဌ၊ ပြည်ထောင်စု မြန်မာနိုင်ငံ ကုန်သည်များ နှင့် စက်မှုလက်မှုလုပ်ငန်းရှင်များ အသင်းချုပ်။

၃၀။ အုပ်ချုပ်မှု ဒါရိုက်တာ၊ ဝင်းတားစတား အင်တာပရိုက်(စ်) (Winter Star Enterprise)။

လျှို့ဝှက်

# ပြည်ထောင်စု မြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

စာအမှတ်၊ ရက-၁/မ-၁၃၇၆/ ၂၀၀၂ (၅၀၇၄)။
ရက်စွဲ၊ ၂၀၀၃ ခုနှစ်၊ မတ်လ ၇ ရက်။

ကုန်သွယ်မှု မူဝါဒ ကောင်စီ သို့ တင်ပြသည့်
အမှာစာ

အကြောင်းအရာ။ ဝင်းတား စတား အင်တာပရိုက်(စ်) (လုပ်ငန်းအဟောင်း) မှ CMP စနစ်ဖြင့် နိုင်ငံတကာ အဆင့်မီ အဝတ်အထည် အမျိုးမျိုးချုပ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်ရန် အဆိုပြုတင်ပြခြင်း ကိစ္စ။

၁။ မြန်မာကုမ္ပဏီဖြစ်သော ဝင်းတား စတား အင်တာပရိုက်(စ်) (Winter Star Enterprise) မှ CMP စနစ်ဖြင့် နိုင်ငံတကာအဆင့်မီ အဝတ်အထည် အမျိုးမျိုး ချုပ်လုပ်ခြင်း လုပ်ငန်းကို မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ခွင့်ပြုမိန့် ရရှိရေး အတွက် CMP လက်ခစားလုပ်ငန်းများ စိစစ်ရေးကော်မတီမှ စိစစ်ထောက်ခံ တင်ပြလာပါသည်။ ယင်းအဆိုပြုချက်ကို (၂၈-၂-၂၀၀၃) နေ့တွင် ကျင်းပပြုလုပ်ခဲ့သည့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၇/၂၀၀၃) အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။ ယင်းအစည်းအဝေးမှ လုပ်ငန်းဆောင်ရွက်ရန် မူအားဖြင့် သဘောတူပြီး၊ ကုန်သွယ်မှု မူဝါဒ ကောင်စီသို့ ဆက်လက်တင်ပြရန် ဆုံးဖြတ်ချက်အရ တင်ပြခြင်းဖြစ်ပါသည်။ အဆိုပြုချက်ကို နောက်ဆက်တွဲ(၁) အဖြစ် တင်ပြထားပါသည်။

၂။ လုပ်ငန်း၏ မတည်ငွေရင်း ပမာဏမှာ အမေရိကန်ဒေါ်လာ (၆၇၇၃၀) အပါအဝင် စုစုပေါင်း ကျပ် (၁၀.၂၇) သန်း ဖြစ်ပါသည်။ ယင်းတွင် စက်ပစ္စည်းကိရိယာ တန်ဖိုး ကျပ် (၇.၉၁) သန်း {အမေရိကန်ဒေါ်လာ (၆၇၇၃၀) အပါအဝင်} နှင့် ပရိဘောဂ တန်ဖိုး ကျပ် (၂.၃၆) သန်း ထည့်ဝင်ရင်းနှီးထားပါသည်။ စက်ပစ္စည်းများကို ဟောင်ကောင် Uni Leader Textiles Ltd. မှ ဝယ်ယူထားကြောင်း တင်ပြထားပါသည်။

၃။ ယင်းလုပ်ငန်းကို ဆောင်ရွက်ရန်အတွက် ကာကွယ်ရေး ဝန်ကြီးဌာနပိုင်၊ တပ်မတော် အထည်ချုပ်စက်ရုံဝင်း၊ မင်္ဂလာဒုံမြို့နယ်၊ ရန်ကုန်တိုင်းရှိ မြေဧရိယာ (၀.၃၂)ဧက (၁၂၉၅ စတုရန်းမီတာ) နှင့် ယင်းမြေပေါ်ရှိ အဆောက်အဦအား ငှါးရမ်း၍ လုပ်ငန်း ဆောင်ရွက်လျက်ရှိပါသည်။

၄။ လုပ်ငန်းမှ ထုတ်လုပ်မှု၏ (၉၉) ရာခိုင်နှုန်းကို CMP စနစ်အရ ပြည်ပသို့ တင်ပို့မည်ဖြစ်ပြီး၊ ကျန်ပယ်ထည် Reject (၁) ရာခိုင်နှုန်းအား ပြည်တွင်းတွင် ရောင်းချမည် ဖြစ်ပါသည်။ ပုံမှန်နှစ်ရှိ ထုတ်လုပ်မှု နှင့်

လျှို့ဝှက်

ဈေးနှုန်းများမှာ အောက်ပါအတိုင်း ဖြစ်ပါသည်–

| စဉ် | အမျိုးအမည် | ထုတ်လုပ်မှု (ဒါဇင်) | CMP ချုပ်ခ (US$/Doz) | ပြည်တွင်းရောင်း (ကျပ်/ဒါဇင်) |
|---|---|---|---|---|
| ၁။ | Underwear | ၂၃၀၀၀ | ၃.၀၀ | ၅၄၀၀ |
| ၂။ | Trousers | ၈၈၀၀ | ၆.၅၀ | ၁၂၄၀၀ |
| ၃။ | Shirts | ၈၈၀၀ | ၄.၅၀ | ၁၁၀၀၀ |
| ၄။ | Jacket | ၁၀၈၀၀ | ၁၄.၀၀ | ၂၀၀၀၀ |
| ၅။ | T-Shirts | ၂၅၆၀၀ | ၅.၀၀ | ၁၂၀၀၀ |

၅။ လုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့်ပုံမှန်နှစ်တွင် ရရှိမည့်ဝင်ငွေနှင့် အသုံးစရိတ်ခန့်မှန်းခြေမှာ အောက်ပါ အတိုင်း ဖြစ်ပါသည်–

(ကျပ်သန်း)

| | | ပြည်တွင်း | နိုင်ငံခြား | စုစုပေါင်း |
|---|---|---|---|---|
| (က) | ဝင်ငွေ | ၈.၆၇ | ၂.၆၄ | ၁၁.၃၁ |
| (ခ) | အသုံးစရိတ် | ၉.၆၅ | ၀.၇၆ | ၁၀.၄၁ |
| (ဂ) | အသားတင်အမြတ် | (၀.၉၈) | ၁.၈၈ | ၀.၉၀ |

၆။ လုပ်ငန်း၏ အရင်းကြေကာလမှာ (၄)နှစ်နှင့် (၈)လဖြစ်ပြီး၊ အရင်းအနှီးအပေါ် အကျိုးအမြတ် ပြန် ပေါ်နှုန်း (IRR) မှာ (၂၀.၅၀)ရာနိုင်နှုန်း ဖြစ်ပါသည်။

၇။ လုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှ ပုံမှန်နှစ်တွင် ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်–

(က) ဝင်ငွေခွန် — အမေရိကန်ဒေါ်လာ ၀.၀၆ သန်း

(ခ) ကုန်သွယ်လုပ်ငန်းခွန် — ကျပ် ၀.၈၇ သန်း

၈။ လုပ်ငန်းကို ပြည်တွင်း ဝန်ထမ်း(၂၆၀)ဦး ခန့်ထား ဆောင်ရွက်လျက် ရှိပါသည်။

၉။ လျှပ်စစ်စွမ်းအား ဝန်ကြီးဌာနသို့ သဘောထားမှတ်ချက် တောင်းခံခဲ့ရာ လုပ်ငန်းဟောင်း ဖြစ်၍ ဓါတ် အား ဆက်လက်ပေးနိုင်ပါကြောင်း ပြန်ကြားလာပါသည်။

ကုမ္ပဏီ ဒါရိုက်တာနှင့် အစုရှင်များ၏ နေရပ်လိပ်စာ စာရင်း

| စဉ် | ကုမ္ပဏီအမည် | ဒါရိုက်တာ/အစုရှင်များ၏ အမည် | ဒါရိုက်တာ/အစုရှင်များ၏ လိပ်စာ |
|---|---|---|---|
| ၁။ | ဝင်းတား စတား အင်တာပရိုက်(စ်)<br>(Winter Star Enterprise) | ဦးမောင်ပြုံး<br>(အုပ်ချုပ်မှုဒါရိုက်တာ) | အမှတ် (၅၁) ဒုတိယထပ်၊ (၂၃)လမ်း၊ လသာမြို့နယ်၊ ရန်ကုန်တိုင်း။ |

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ
လျှပ်စစ်စွမ်းအားဝန်ကြီးဌာန

# မြန်မာ့လျှပ်စစ်ဓာတ်အားလုပ်ငန်း

စာအမှတ်၊ ၃၆ /အသပ(ထ)ရင်းနှီးမြှုပ်နှံမှု/၂၀၀၃။
ရက်စွဲ ၊ ၂၀၀၃ခုနှစ်၊ ဇန်နဝါရီလ(၁၇)ရက်။

အကြောင်းအရာ။ ။ **သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ။**

ရည်ညွှန်းချက် ။ ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၃-၁၂-၂၀၀၂ ရက်စွဲပါ စာအမှတ် ရကာ-၁၄မ/သဘောထား/၂၀၀၂(၃၆၃၇)(က)။

၁။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ လုပ်ငန်းဆောင်ရွက်ခွင့် အဆိုပြုလွှာများနှင့် ပတ်သက်၍ ရည်ညွှန်းစာဖြင့် လျှပ်စစ်စွမ်းအားဝန်ကြီးဌာန၏သဘောထားမှတ်ချက် တောင်းခံလာပါ သည်။

၂။ နောက်ဆက်တွဲပါ(၃)ဦးမှာ လုပ်ငန်းသစ်များမဟုတ်ဘဲ တည်ဆောက်ပြီးလည်ပတ်နေသော စက်ရုံများဖြစ်၍ လျှပ်စစ်ဓာတ်အား ရရှိသုံးစွဲလျက်ရှိပါသည်။ ဆက်လက်ဓာတ်အားပေးနိုင်ပါကြောင်း ပြန်ကြားအစီရင်ခံအပ်ပါသည်။

ဦးဆောင်ညွှန်ကြားရေးမှူး(ကိုယ်စား)
(ဒေါက်တာစန်းဦး-အင်ဂျင်နီယာချုပ်)

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

DD (C/A)

လိပ်စာ
၁၉၇ - ၁၉၉၊ ကြည့်မြင်တိုင်အောက်လမ်း၊
အလုံစာတိုက်၊ ရန်ကုန်မြို့။

ကြေးနန်း
လျှပ်စစ်အဖွဲ့

တယ်လီဖုန်း
၂၂၂၈၆၆

မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေအရ လုပ်ငန်းဆောင်ရွက်ခွင့် တင်ပြလာသည့် အဆိုပြုချက်များ

| စဉ် | ကုမ္ပဏီအမည်နှင့် အဆိုပြုသူအမည် | လုပ်ငန်းအမျိုးအစား | ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့် အရပ်ဒေသ | လျှပ်စစ်ဓာတ်အား လိုအပ်ချက် | လျှပ်စစ်ဓာတ်အားလက်ရှိသုံးစွဲနေမှု | မှတ်ချက် |
|---|---|---|---|---|---|---|
| ၁။ | ဝင်းတားစကားအင်တာပရိုက်(စ်) ဦးမောင်ပြုံး | CMPစနစ်ဖြင့်အထည်ချုပ်လုပ်ငန်း | အင်းစိန်မြို့နယ်၊ အောင်ဆန်းစာရေးကိရိယာ နှစ်ထပ်သို့လှောင်ရုံ | ၄၀၀ ကီလိုဝပ် | ၃ သွင် ၄ ကြိုး (၂၀၀/၅) အင်ပီယာ (မီတာအမှတ်- XN-၂၄၇၀၆)ဖြင့် မြင်းကောင်ရေ (၄၀)ကောင် သုံးခွင့်ပြုထားပါသည်။ | ဓာတ်အားဆက်လက်ပေးနိုင်ပါသည်။ |
| ၂။ | ဝင်းတားစတားအင်တာပရိုက်(စ်) ဦးမောင်ပြုံး | CMPစနစ်ဖြင့်အထည်ချုပ်လုပ်ငန်း | မင်္ဂလာဒုံမြို့နယ်၊ တပ်မတော်အထည်ချုပ်စက်ရုံဝင်း | ၄၅၀ ကီလိုဝပ် | ၃ သွင် ၄ ကြိုး (၃၀၀/၅) အင်ပီယာ မီတာဖြင့် မြင်းကောင်ရေ (၃၃၇)ကောင် သုံးခွင့်ပြုထားပါသည်။ | ဓာတ်အားဆက်လက်ပေးနိုင်ပါသည်။ |
| ၃။ | လုပ်ငန်းရှင်ကြီး (ကုန်ထုတ်လုပ်မှု) ကုမ္ပဏီလီမိတက် ဦးမြတ်လင်း | CMPစနစ်ဖြင့်အထည်ချုပ်လုပ်ငန်း | မင်္ဂလာဒုံမြို့နယ်၊ ကုတင် (၅၀၀) ဆန့် အရိုးအထူးကုဆေးရုံဝင်း | ၄၀၀ ကီလိုဝပ် | ၃ သွင် ၄ ကြိုး (၃၀၀/၅) အင်ပီယာ (မီတာအမှတ်- XN-၄၁၆၆၀)ဖြင့် မြင်းကောင်ရေ (၂၁၅)ကောင် သုံးခွင့်ပြုထားပါသည်။ | ဓာတ်အားဆက်လက်ပေးနိုင်ပါသည်။ |

## လုပ်ငန်း စီမံကိန်း အဆိုပြုချက်၏အဓိကအချက်များ
## (မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေအရ)

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည် | ဝင်းတားစတားအင်တာပရိုက်(စ်)<br>(Winter Star Enterprise)<br>(တစ်ဦးတည်းပိုင်) |
| ၂။ | လုပ်ငန်းအဆိုပြုသူအမည် | ဦးမောင်ငြိမ်း |
| ၃။ | အဆိုပြုလုပ်ငန်းအမျိုးအစား | CMP စနစ်ဖြင့်နိုင်ငံတကာအသင့်ဝတ်အထည်အမျိုးမျိုး ချုပ်လုပ်ခြင်းလုပ်ငန်း<br>(လုပ်ငန်းအဟောင်း) |
| ၄။ | တည်နေရာ | တပ်မတော်အထည်ချုပ်စက်ရုံဝင်း၊ မင်္ဂလာဒုံမြို့နယ်၊ ရန်ကုန်တိုင်း၊ |
| ၅။ | စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | ကျပ် ၁၀.၂၇ သန်း (US$ ၆၇၄၃၀ အပါအဝင်) |
| | - စက်ပစ္စည်းကိရိယာ | ကျပ် ၇.၉၁ သန်း (US$ ၆၇၇၃၀ အပါအဝင်) |
| | - ပရိဘောဂ | ကျပ် ၂.၃၆ သန်း |
| ၆။ | မြေအကြောင်းအရာ | |
| | - မြေအကျယ်အဝန်း | (၀.၃၂) ဧက (၁၂၉၅ စတုရန်းမီတာ) |
| | - မြေပိုင်ဆိုင်မှု | ကာကွယ်ရေးဝန်ကြီးဌာနပိုင်မြေနှင့်အဆောက်အဦကိုငှါးရမ်းအသုံးပြုထားပါသည်။<br>(တစ်နှစ်စာချုပ်ချုပ်ဆိုငှါးရမ်းပါသည်။) |
| | - မြေငှါးရမ်းခ | တစ်နှစ်US$ (၁၈၀၀၀) |
| | - မြေအမျိုးအစား | နိုင်ငံပိုင်မြေ |
| ၇။ | ထုတ်လုပ်မှု(ပုံမှန်နှစ်) | ဒါဇင် |
| | - Underwear | ၂၃၀၀၀ |
| | - Trousers | ၈၈၀၀ |
| | - Shirts | ၈၈၀၀ |
| | - Jacket | ၁၀၈၀၀ |
| | - T - Shirts | ၂၅၆၀၀ |
| | | ၇၇၀၀၀ (တစ်ဦးလျှင်တစ်နှစ်ပျှမ်းမျှ (၃၀၇) ဒါဇင်နှုန်းရှိပါသည်။) |

| | | | |
|---|---|---|---|
| ၈။ | ရောင်း ချမည့်နည်း စနစ် | | |
| | - CMP စနစ်အရ (ပြည်ပ) | ၉၉% | |
| | - ပြည်တွင်းရောင်းချ ( Reject ) | ၁% | |
| ၉။ | ရောင်းဈေးနှုန်း (ပုံမှန်နှစ်) | CMP စနစ်အရ (US$ / Doz ) | ပြည်တွင်းရောင်း (ကျပ် / ဒါဇင်) |
| | - Underwear | ၃.၀၀ | ၅၄၀၀ |
| | - Trousers | ၆.၅၀ | ၁၂၄၀၀ |
| | - Shirts | ၄.၅၀ | ၁၀၀၀၀ |
| | - Jacket | ၁၄.၀၀ | ၂၀၀၀၀ |
| | - T - Shirt | ၅.၀၀ | ၁၂၀၀၀ |
| ၁၀။ | ဝင်ငွေ (ပုံမှန်နှစ်) | ကျပ် ၈.၆၇ သန်း<br>US$ ၀.၄၄ သန်း | |
| ၁၁။ | အသားတင်အမြတ် | US$ ၀.၃၁ သန်း | |
| ၁၂။ | အရင်း ကြေကာလ | (၄) နှစ်နှင့် (၈) လ | |
| ၁၃။ | အရင်းအနှီး အပေါ်အကျိုး အမြတ်ပြန်ပေါ်နှုန်း (IRR ) | (၂၀.၅၀) ရာခိုင်နှုန်း | |
| ၁၄။ | နိုင်ငံတော်မှ ပုံမှန်နှစ်တွင် ရရှိမည့်အကျိုးအမြတ် | | |
| | - ဝင်ငွေခွန် | US$ ၀.၀၆ သန်း | |
| | - ကုန်သွယ်လုပ်ငန်း ခွန် (ပြည်တွင်းရောင်းရငွေပေါ် ၁၀%) | ကျပ် ၀.၈၇ သန်း | |
| ၁၅။ | ဝန်ထမ်း အင်အား (ပြည်တွင်း ) | (၂၆၀) ဦး | |
| ၁၆။ | အခြား | - စက်ပစ္စည်း များကို ဟောင်ကောင် Uni - Leader Textiles Ltd. - - မှဝယ်ယူထား ကြောင်း တင်ပြထားပါသည်။ စက်ပစ္စည်း အထောက်အထား အဖြစ် စက်ပစ္စည်းအားလုံး အတွက် Invoice အပြည့်အစုံတင်ပြထား ပါသည်။ | |

- စက်စာရင်း ၊ ကုန်ကြမ်းစာရင်းနှင့်ထုတ်လုပ်မှုစံနှုန်း စာရင်းများကိုပူးတွဲတင်ပြထားပါသည်။
- ကတိဝန်ခံချက်များ (အောက်ပါအတိုင်းပေးထားပါသည်။
- ယင်းလုပ်ငန်းသည်မြန်မာနိုင်ငံသားများ သာလျှင်ပိုင်ဆိုင်ပြီးနိုင်ငံခြားမှမည်သူမျှပိုင်ဆိုင်မှုမရှိကြောင်း ၊
- မြေယာနှင့်ပတ်သက်၍ နိုင်ငံတော်မှသတ်မှတ်ပြဋ္ဌာန်းမည့်စည်းကမ်းသတ်မှတ်ချက်များကိုလိုက်နာမည်ဖြစ်ကြောင်း ၊
- ပတ်ဝန်းကျင်ညစ်ညမ်းမှုနှင့်မီးဘေးအန္တရာယ်များ မဖြစ်ပွားစေရန်လိုအပ်သောအစီအမံများ ၊ ကြိုတင်ကာကွယ်မှုများပြုလုပ်ထားမည်ဖြစ်ကြောင်း ၊
- CMP စနစ်မှရသောနိုင်ငံခြားငွေများကိုမြန်မာ့နိုင်ငံခြားကုန်သွယ်မှုဘဏ်/မြန်မာ့ရင်းနှီးမြှုပ်နှံမှုနှင့်ကုန်သွယ်ရေးဘဏ်တို့တွင်စာရင်းဖွင့်အပ်နှံမည်ဖြစ်ကြောင်းနှင့် ယင်းနိုင်ငံခြားငွေများကိုသတ်မှတ်ခွင့်ပြုထားသည့်ငွေလဲလှယ်ရေးဌာနတွင်လဲလှယ်ပြီးအလုပ်သမားများ၏လုပ်ခများ အားပေးဆောင်မည်ဖြစ်ကြောင်း ၊
- <u>လျှပ်စစ်စွမ်းအား ဝန်ကြီးဌာန</u>သို့သဘောထားမှတ်ချက်တောင်းခံခဲ့ရာမြန်မာ့လျှပ်စစ်ဓါတ်အားလုပ်ငန်းမှအဆိုပြုလုပ်ငန်းသည်လုပ်ငန်းသစ်မဟုတ်ဘဲတည်ဆောက်ပြီးသည့်ပတ်နေသော

စက်ရုံဖြစ်၍ လျှပ်စစ်ဓါတ်အား ရရှိသုံးစွဲလျက်ရှိပါကြောင်း နှင့်ဆက်လက်ဓါတ်အားပေးနိုင်ပါကြောင်း ၊ ပြန်ကြားလာပါသည်။ (ပူးတွဲ)

- ကာကွယ်ရေးဝန်ကြီးဌာန၊ စစ်ထောက်ချုပ်ရုံး မှ မင်္ဂလာဒုံမြို့နယ် ရှိတပ်မတော်အထည်ချုပ်စက်ရုံရှိ ဂိုဒေါင် (၃) လုံး အား ၁၉၉၅-ခုနှစ်မှ ယနေ့အထိ Winter Star Enterprise - သို့ငှားရမ်း၍ အထည်ချုပ်လုပ်ငန်း လုပ်ကိုင်လျက်ရှိသည်မှာ မှန်ကန်ကြောင်းထောက်ခံတင်ပြလာပါသည်။
- ယခုအဆိုပြုလုပ်ငန်းသည် C M P လက်ခစားလုပ်ငန်းများစီစစ်ရေး ကော်မတီမှ စီစစ်ထောက်ခံတင်ပြလာသော C M P လုပ်ငန်းဟောင်းဖြစ်ပါ၍ ကော်မရှင်အစည်းအဝေးသို့ဆက်လက်တင်ပြခြင်းဖြစ်ပါသည်။
- ငွေရေးကြေးရေး ဆိုင်ရာအထောက်အထားအဖြစ် Winter Star Enterprise အမည်ဖြင့် MFTB ရှိ (၁၆-၁၀-၀၂) နေ့ဘက်လက်ကျန်ငွေ US $ (၂၀၃၀) ရှိကြောင်းတင်ပြထားပါသည်။
- ပူးတွဲပါဥပဒေပုဒ်မ ၁၂ နှင့် ၁၃ အရ အခွန်ကင်းလွတ်ခွင့်နှင့်သက်သာခွင့်များကို ခံစားခွင့်ပြုရန် လျှောက်ထားလာပါသည်။
- ခွင့်ပြုမိန့်ထုတ်ပေးပြီးအထည်ချုပ်လုပ်ငန်းပေါင်း (၁၉၀) ခုတွင်လုပ်ငန်းဟောင်း (၃၇) ခု ပါဝင်ပါသည်။ ယခုအဆိုပြုလုပ်ငန်းအပါအဝင် တင်ပြထားဆဲအထည်ချုပ်လုပ်ငန်း (၄၇) ခုရှိပါသည်။

၁၈ ၄င်းတို့တင်ပြသောအဆိုပြုချက်အရ ထုတ်လုပ်မှုပုံမှန်နှစ်)

| အထည်အမျိုးအစား | ဒါဇင် | ချုပ်ခနှုန်း (US $/Doz) | မျှော်မှန်းသော (CMP) လက်ခငွေ (US $) |
|---|---|---|---|
| - Underwear | ၂၃၀၀၀ | ၃.၀၀ | ၆၉၀၀၀ |
| - Trousers | ၈၈၀၀ | ၆.၅၀ | ၅၇၂၀၀ |
| - Shirts | ၈၈၀၀ | ၄.၅၀ | ၃၉၆၀၀ |
| - Jacket | ၁၁၈၀၀ | ၁၄.၀၀ | ၁၆၅၂၀၀ |
| - T - Shirts | ၂၅၆၀၀ | ၅.၀၀ | ၁၂၈၀၀၀ |
| စုစုပေါင်း | ၇၇၀၀၀ | | ၄၄၅၀၀၀ |

(တစ်ဦးလျှင်တစ်နှစ်ပျှမ်းမျှ (၃၀၇) ဒါဇင်နှုန်း ရှိပါသည်။ )

- အဆိုပြုလွှာပါပြည်တွင်း အလုပ်သမား (၂၆၀) ဦး ရှိပါသည်။

- ထို့ကြောင့်အဆိုပြုလွှာပါတစ်ဦး တစ်လ အတွက် မျှော်မှန်းသော ချုပ်ခရငွေ = (၄၄၅၀၀၀ ÷ ၂၆၀ ဦး ÷ ၁၂)
= (၁၄၂.၆၃) ဒေါ်လာဖြစ်ပါသည်။



* ငွေး * ၂၆-၂-၂၀၀၃။

# WINTER STAR ENTERPRISE

## LIST OF MACHINERIES & EQUIPMENTS

Exhibit No. III

| Sr No | Particulars | Unit | Qty | Unit Price In US $ | Value In US $ |
|---|---|---|---|---|---|
| 1 | Sewing Machine (Yamato) | No | 69 | 206 | 14214 |
| 2 | Sewing Machine (Juki) | No | 10 | 250 | 2500 |
| 3 | Sewing Machine (Singer) | No | 18 | 315 | 5670 |
| 4 | Sewing Machine (Rimoldi) | No | 49 | 320 | 15680 |
| 5 | Sewing Machine (Brother) | No | 8 | 280 | 2240 |
| 6 | Sewing Machine (Unicom) | No | 28 | 300 | 8400 |
| 7 | Overlock Machine (Siruba) | No | 30 | 250 | 7500 |
| 8 | Overlock Machine (Pegasus) | No | 17 | 420 | 7140 |
| 9 | Button Holding Machine (Juki) | No | 4 | 225 | 900 |
| 10 | Stitching Machine (Yamato) | No | 10 | 225 | 2250 |
| 11 | Stitching Machine (Siruba) | No | 6 | 206 | 1236 |
| | **Total** | | 249 | | 67730 |

မှတ်ချက် ။ ။ အဆိုပါ စက်ပစ္စည်းများကို ဟောင်ကောင်နိုင်ငံ UNI - LEADER TEXTILES LTD. မှ ဝယ်ယူပြီးဖြစ်ကြောင်းနှင့် ဈေးနှုန်းများမှာ လျော်ကန်သင့်မြတ် ပါသည်။

ဦးမောင်ပြုံး

(အုပ်ချုပ်မှု ဒါရိုက်တာ)

WINTER STAR ENTERPRISE

# WINTER STAR ENTERPRISE

## LIST OF MACHINERIES & EQUIPMENTS

Exhibit No. III

| Sr No | Description | A/U | Qty | Unit Price In Kyats | Value In Kyats |
|---|---|---|---|---|---|
| 1 | Generator (250 KVA) | No | 1 | 7500000 | 7500000 |
| | **Total** | | | | **7500000** |

မှတ်ချက် ။ ပြည်တွင်းမှ စက်ပစ္စည်းများ ဝယ်ယူရာတွင် နိုင်ငံခြားမှ တရားဝင် ရောင်းချသော ကုန်သွယ်မှု လုပ်ငန်းမှဝယ်ယူပြီးဖြစ်ပါသည်။ ဖော်ပြပါစက်ပစ္စည်းများ၏ဈေးနှုန်းမှာ ရှေ့ပြေးနှုန်းသင့် ဖြစ်ပါသည်

ဦးအောင်ငြိမ်း
(အုပ်ချုပ်မှု ဒါရိုက်တာ)
WINTER STAR ENTERPRISE

# WINTER STAR ENTERPRISE

## List of Raw Materials Requirement on CMP Basis

Exhibit No. IV

| Sr. No | Particulars | A U | Year - 1 | Year - 2 | Year - 3 | Year - 4 | Year 5-10 |
|---|---|---|---|---|---|---|---|
| 1 | Fabric | Yds 000 | 1859.00 | 1859.00 | 1859.00 | 1859.00 | 1859.00 |
| 2 | Main Label | Pcs 000 | 979.00 | 979.00 | 979.00 | 979.00 | 979.00 |
| 3 | Size Label | Pcs 000 | 979.00 | 979.00 | 979.00 | 979.00 | 979.00 |
| 4 | Care Label | Pcs 000 | 979.00 | 979.00 | 979.00 | 979.00 | 979.00 |
| 5 | Polyesrer Button | Doz 000 | 348.00 | 348.00 | 348.00 | 348.00 | 348.00 |
| 6 | Zipper | Pcs 000 | 250.00 | 250.00 | 250.00 | 250.00 | 250.00 |
| 7 | SP Thread | Lbs 000 | 31.00 | 31.00 | 31.00 | 31.00 | 31.00 |
| 8 | Shoulder Tape | Yds 000 | 240.00 | 240.00 | 240.00 | 240.00 | 240.00 |
| 9 | Twill Tape | Yds 000 | 350.00 | 350.00 | 350.00 | 350.00 | 350.00 |
| 10 | Hang Tape | Pcs 000 | 810.00 | 810.00 | 810.00 | 810.00 | 810.00 |
| 11 | Price Ticket | Pcs 000 | 810.00 | 810.00 | 810.00 | 810.00 | 810.00 |
| 12 | Poly Bag | Pcs 000 | 810.00 | 810.00 | 810.00 | 810.00 | 810.00 |
| 13 | P.E Poly Bag | Pcs 000 | 180.00 | 180.00 | 180.00 | 180.00 | 180.00 |
| 14 | Tissue Paper | Pcs 000 | 810.00 | 810.00 | 810.00 | 810.00 | 810.00 |
| 15 | Elastic | Yds 000 | 450.00 | 450.00 | 450.00 | 450.00 | 450.00 |
| 16 | Plastic Clip | Pcs 000 | 650.00 | 650.00 | 650.00 | 650.00 | 650.00 |

# WINTER STAR ENTERPRISE

ထုတ်လုပ်မည့် အဝတ်အထည် တစ်ထည်ချင်း၏ အဓိက ကုန်ကြမ်းလိုအပ်ချက်စံနှုန်း

| Sr. No. | Particulars | Fabric Yards | Button Pcs | Zip Pcs | Label (Main Size / Care) Pcs | SP Thread Lbs |
|---|---|---|---|---|---|---|
| 1 | Underwear | 1 | - | - | 3 | 0.015 |
| 2 | Trousers | 2.5 | 4 | 1 | 3 | 0.040 |
| 3 | Skirts | 2 | 6 | - | 3 | 0.040 |
| 4 | Jacket | 3 | 8 | 1 | 3 | 0.045 |
| 5 | T-Shirts | 2 | 6 | - | 3 | 0.035 |

ပူးတွဲ

မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၁၃ အရ အခွန်ကင်းလွတ်ခွင့်နှင့်သက်သာခွင့်များ ရရှိရေး အတွက် လျှောက်ထား ချက်အပေါ် အောက်ပါအတိုင်း သုံးသပ်တင်ပြပါသည်။

- ဥပဒေပုဒ်မ ၁၃(ခ)အရလုပ်ငန်း မှပြည်ပသို့တင်ပို့ရောင်းချခြင်း မှနိုင်ငံခြားငွေဖြင့်ရရှိသည့်အမြတ်ငွေအပေါ် (၅၀%) ဝင်ငွေခွန်သက်သာခွင့်နှင့်ပတ်သက်၍လုပ်ငန်း၏အမှန်တကယ်အကောင်အထည်ဖော် ဆောင်ရွက်နိုင်မှုအခြေအနေကို ဖော်ပြလျှက် ပထမဝင်ငွေခွန်ကင်းလွတ်ခွင့်(၃)နှစ်ခံစားပြီး နောက်ကော်မရှင်သို့ လျှောက်ထားလာသည့်အခါစဉ်းစားခွင့်ပြုသင့်ပါသည်။

- ဥပဒေပုဒ်မ ၁၃(ဂ)အရ ကုန်ထုတ်လုပ်မှု ကြောင့် ပြည်တွင်းပြည်ပဝင်ငွေတိုးတက်မှုရှိပါက သတ်မှတ်ချက်နှင့်အညီဝင်ငွေခွန်သက်သာခွင့်ကိုလုပ်ငန်းအကောင်အထည်ဖော်မှုအရ လျှောက်ထားလာသည့်အခါစဉ်းစားခွင့်ပြုသင့်ပါသည်။

- ဥပဒေပုဒ်မ ၁၃(ဃ)အရသွင်းကုန်အစားထိုး လုပ်ငန်း အဖြစ်အကျိုးအမြတ်နည်းသည့်လုပ်ငန်းအပေါ်သင့်လျော်သော ကာလအထိဝင်ငွေခွန်သက်သာခွင့်တောင်းခံခြင်းကိုအကျုံးဝင်ခြင်း မရှိဟုသုံးသပ်ရပါသည်။

- ဥပဒေပုဒ်မ ၁၃(စ)အရလုပ်ငန်းမှ ရရှိမည့်အမြတ်ငွေကို တစ်နှစ်အတွင်း ပြန်လည်ရင်းနှီးမြှုပ်နှံပါကထိုအမြတ်ငွေပေါ် တွင်ဝင်ငွေခွန်ကင်းလွတ်ခွင့်(သို့မဟုတ်)သက်သာခွင့်ကိုအမှန် တကယ်ပြန်လည်ရင်းနှီးမြှုပ်နှံမှုပြုသည့်အခါ [illegible] ခွင့်ပြုသင့်ပါသည်။

- ဥပဒေပုဒ်မ ၁၃(ဆ)အရလုပ်ငန်းသုံး မတည်ပစ္စည်းများ အပေါ်တန်ဖိုးလျော့ငွေကိုသတ်မှတ်သည့်နှုန်းအတိုင်း နှစ်တိုတို နှင့်မူလတန်ဖိုးပြည့်မီသည်အထိအမြတ်ငွေမှနုတ်ပယ်ခွင့်နှင့်ပတ် သက်၍ လျော့ကျထားလာသည့်အခါ ကော်မရှင်မှသတ်မှတ်သည့်နှုန်း အတိုင်း ခွင့်ပြုသင့်ပါသည်။

- ဥပဒေပုဒ်မ ၁၃(ဈ)အရ ကနဦးရင်းနှီးမြှုပ်နှံမှုကာလ ကုန်ဆုံး၍ပထမ(၃)နှစ်အတွက် တင်သွင်းသည့် လုပ်ငန်းသုံး ပစ္စည်းများအပေါ်တွင်အကောက်ခွန်နှင့် အခြားပြည်တွင်း အခွန်အကောက်များ ကင်းလွတ်ခွင့်ပြုသင့်ပါသည်။

- ဥပဒေပုဒ်မ ၁၃(ည)အရ ထုတ်လုပ်သည့်ပစ္စည်းများပြည်ပသို့ တင်ပို့ရောင်းချမှုအပေါ်ကုန်သွယ်လုပ်ငန်းခွန်ကင်းလွတ်ခွင့် နှင့်စပ်လျဉ်း၍ C M P စနစ်ဖြင့်ထုတ်လုပ်သည့်ပစ္စည်းများအား ပြည်ပသို့တင်ပို့ရောင်းချမှုအပေါ်ကုန်သွယ်လုပ်ငန်းခွန်ကင်း လွတ်ခွင့်ပြုသင့်ပါသည်။

ပြည်ထောင်စု မြန်မာနိုင်ငံတော် အတွင်း

မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ပြုလုပ်ရန်

ရင်းနှီးမြှုပ်နှံလိုသူ၏ ဆောင်ရွက်ရန်

အဆိုပြုချက်

# ဝင်းတား စတား အင်တာပရိုက်(စ်)

(လုပ်ငန်း အဟောင်း)



PROPOSAL OF THE INVESTOR TO MAKE MYANMAR CITIZENS INVESTMENT IN THE UNION OF MYANMAR

**WINTER STAR ENTERPRISE**

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့။
ပြည်ထောင်စုမြန်မာနိုင်ငံတော်

နေ့စွဲ ။ ။၂၀၀၃ ခုနှစ်၊ မတ် လ၊ (၂၅)ရက်။

အကြောင်းအရာ။ ။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ အဆိုပြုချက်များ ပေးပို့ခြင်း။

အထက်ပါအကြောင်းအရာနှင့် ပတ်သက်၍ ကျွန်တော်တို့၏ **WINTER STAR ENTERPRISE** အနေဖြင့် ပြည်ထောင်စု မြန်မာ နိုင်ငံတော်တွင် နိုင်ငံတကာ အဆင့်မီ အဝတ်အထည် အမျိုးမျိုးချုပ်လုပ်သည့် စက်ရုံ ငှားရမ်းပြီး အခစား ချုပ်လုပ်မှု စနစ် **(Cutting, Making & Packaging System) C.M.P** စနစ်ဖြင့် လုပ်ငန်း လုပ်ကိုင်နိုင်ရန် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ခွင့်ပြုမိန့် လျှောက်ထားသော ကုမ္ပဏီ ဖြစ်ပါသည်။

သို့ဖြစ်ပါ၍ ပြည်ထောင်စု မြန်မာနိုင်ငံတော် အစိုးရအဖွဲ့သို့ ဆက်လက်တင်ပြနိုင်ရန်အတွက် အဆိုပြုလွှာများ ပေးပို့အပ် ပါသည်။

ရိုသေလေးစားစွာဖြင့်
လျှောက်ထားသူ

ဦးမောင်မြိုး
(အုပ်ချုပ်မှု ဒါရိုက်တာ)
WINTER STAR ENTERPRISE

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့။
ပြည်ထောင်စုမြန်မာနိုင်ငံတော်

နေ့စွဲ ။ ။၂၀၀၃ ခုနှစ်၊ မတ်လ၊ ( ၅ )ရက်။

အကြောင်းအရာ။ ။ <u>မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ အဆိုပြုချက်များ ပေးပို့ခြင်း။</u>

အထက်ပါအကြောင်းအရာနှင့် ပတ်သက်၍ ကျွန်တော်တို့၏ WINTER STAR ENTERPRISE အနေဖြင့် ပြည်ထောင်စု မြန်မာ နိုင်ငံတော်တွင် နိုင်ငံတကာ အဆင့်မီ အဝတ်အထည် အမျိုးမျိုးချုပ်လုပ်သည့် စက်ရုံ ငှားရမ်းပြီး အခစား ချုပ်လုပ်မှု စနစ် (Cutting, Making & Packaging System) C.M.P စနစ်ဖြင့် လုပ်ငန်း လုပ်ကိုင်နိုင်ရန် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ခွင့်ပြုမိန့် လျှောက်ထားသော ကုမ္ပဏီ ဖြစ်ပါသည်။

သို့ဖြစ်ပါ၍ ကုန်သွယ်မှုမူဝါဒကောင်စီသို့ ဆက်လက်တင်ပြနိုင်ရန်အတွက် အဆိုပြုလွှာ(၂၅)စုံကို ပေးပို့အပ်ပါသည်။

ရိုသေလေးစားစွာဖြင့်
လျှောက်ထားသူ

ဦးမောင်ပြုံး
(အုပ်ချုပ်မှု ဒါရိုက်တာ)
WINTER STAR ENTERPRISE

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့။
ပြည်ထောင်စုမြန်မာနိုင်ငံတော်

ရက်စွဲ ။ ။၂၀၀၂ ခုနှစ်၊ နိုဝင်ဘာ လ၊ (၂၀ )ရက်။

အကြောင်းအရာ။ ။ <u>မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ အဆိုပြုချက်များ အကြိုစိစစ် ပေးပါရန် ပေးပို့ခြင်း။</u>

အထက်ပါအကြောင်းအရာနှင့် ပတ်သက်၍ ကျွန်တော်တို့၏ **WINTER STAR ENTERPRISE** အနေဖြင့် ပြည်ထောင်စု မြန်မာ နိုင်ငံတော်တွင် နိုင်ငံတကာ အဆင့်မီ အဝတ်အထည် အမျိုးမျိုးချုပ်လုပ်သည့် စက်ရုံ ငှားရမ်းပြီး အခစား ချုပ်လုပ်မှု စနစ် **(Cutting, Making & Packaging System) C.M.P** စနစ်ဖြင့် လုပ်ငန်း လုပ်ကိုင်နိုင်ရန် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ခွင့်ပြုမိန့် လျှောက်ထားသော ကုမ္ပဏီ ဖြစ်ပါသည်။

သို့ဖြစ်ပါ၍ ကျွန်တော်တို့ ကုမ္ပဏီ၏ အဆိုပြုလွှာကို လိုအပ်သလို စိစစ်ပေးနိုင်ပါရန် အတွက် အဆိုပြုလွှာ (၆)စုံကို ပေးပို့ တင်ပြ အပ်ပါသည်။

ရိုသေလေးစားစွာဖြင့်
လျှောက်ထားသူ

ဦးမောင်ပြုံး
(အုပ်ချုပ်မှု ဒါရိုက်တာ)
**WINTER STAR ENTERPRISE**



သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
ရန်ကုန်မြို့။
ပြည်ထောင်စု မြန်မာနိုင်ငံတော်

နေ့စွဲ ။ ။ ၂၀၀၂ ခုနှစ်၊ နိုဝင်ဘာ လ၊ (၂၀) ရက်။

အကြောင်းအရာ ။ ။ **မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ လုပ်ငန်း ဆောင်ရွက်ခြင်းနှင့် ပတ်သက်၍ ကတိဝန်ခံချက်များ ပေးပို့ခြင်း။**

၁။ အထက်ပါ အကြောင်းအရာနှင့် ပတ်သက်၍ ကျွန်တော်တို့၏ **WINTER STAR ENTERPRISE** အနေဖြင့် ပြည်ထောင်စု မြန်မာနိုင်ငံတော်တွင် နိုင်ငံတကာ အဆင့်မီ အဝတ်အထည် အမျိုးမျိုးချုပ်လုပ်သည့် စက်ရုံ ငှားရမ်းပြီး အစေား ချုပ်လုပ်မှု စနစ် **(Cutting, Making & Packaging System)** ဖြင့် လုပ်ငန်း လုပ်ကိုင်နိုင်ရန် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ခွင့်ပြုမိန့် လျှောက်ထားသော ကုမ္ပဏီ ဖြစ်ပါသည်။

ဤလုပ်ငန်းသည် မြန်မာနိုင်ငံသားများသာလျှင် ပိုင်ဆိုင်သော လုပ်ငန်းဖြစ်ပါသည်။ ဤလုပ်ငန်းတွင် နိုင်ငံခြားမှ မည်သူမျှ ပိုင်ဆိုင်မှု မရှိပါကြောင်းနှင့် အောက်ပါ အချက်များကို သိရှိလိုက်နာမည် ဖြစ်ပါကြောင်း ဝန်ခံကတိပြုပါသည်။

(၁) ကျွန်တော်တို့ ကုမ္ပဏီအနေဖြင့် လုပ်ငန်းဆောင်ရွက်ရာတွင်လည်း ပတ်ဝန်းကျင် ညစ်ညမ်းမှု မဖြစ်ပွားစေရန် အတွက် လိုအပ်သော အစီအမံများ၊ ကြိုတင်ကာကွယ်မှုများ ပြုလုပ်ဆောင်ရွက် ထားမည်ဖြစ်ကြောင်းနှင့် မီးဘေး ကြိုတင်ကာကွယ်မှုများ ပြုလုပ်၍လုပ်ငန်း ဆောင်ရွက်မည် ဖြစ်ကြောင်း ဝန်ခံကတိပြုပါသည်။

(၂) ထို့အပြင် နိုင်ငံတော် အစိုးရမှ ချမှတ်ထားသော ညွှန်ကြားချက်များ ... ထို့အပြင် နိုင်ငံတော် အစိုးရမှ မြေယာနှင့် ပတ်သက်၍ သတ်မှတ်ပြဋ္ဌာန်းသည့်စည်းကမ်း သတ်မှတ်ချက်များကို လိုက်နာ ဆောင်ရွက်မည်ဟု ဝန်ခံကတိ ပြုပါသည်။

(၃) ဤအဆိုပြုလုပ်ငန်းများ ဆောင်ရွက်မှုအတွက် နိုင်ငံခြားငွေဖြင့် ရရှိသော အခကြေးငွေများကို မြန်မာ့နိုင်ငံခြား ကုန်သွယ်မှု ဘဏ်/ မြန်မာ့ရင်းနှီး မြှုပ်နှံမှုနှင့် ကူးသန်းရောင်းဝယ်ရေး ဘဏ်ရှိ ကုမ္ပဏီ၏ ငွေစာရင်း သို့ မပျက်မကွက် ပေးသွင်းမည် ဖြစ်ကြောင်း ဝန်ခံကတိ ပြုပါသည်။

(၄) ယင်းသို့ ပေးသွင်းထားရှိသည့် နိုင်ငံခြားငွေများကို နိုင်ငံတော်မှ သတ်မှတ်ခွင့် ပြုထားသည့် ငွေလဲလှယ်ရေး ဌာန **(Foreign Exchange Counter)** တွင် လဲလှယ်ပြီး မိမိလုပ်ငန်း အတွက် အလုပ်သမားများ၏ လုပ်ခများအား ပေးဆောင်ရမည်ကို သိရှိလိုက်နာမည် ဖြစ်ကြောင်း ဝန်ခံကတိပြုပါသည်။

ရိုသေလေးစားစွာဖြင့်
လျှောက်ထားသူ

ဦးမောင်ပြုံး
(အုပ်ချုပ်မှု ဒါရိုက်တာ)
**WINTER STAR ENTERPRISE**

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
ရန်ကုန်မြို့။
ပြည်ထောင်စု မြန်မာနိုင်ငံတော်

ရက်စွဲ ။ ။ ၂၀၀၂ ခုနှစ်၊ နိုဝင်ဘာ လ၊ ( ၂၀ )ရက်။

အကြောင်းအရာ ။ ။ ပြည်ထောင်စု မြန်မာနိုင်ငံတော် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ခွင့်ပြုမိန့်နှင့် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၂နှင့် ၁၃ တို့အရ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များ လျှောက်ထားခြင်း။

၁။ အထက် အကြောင်းအရာပါ ကိစ္စနှင့်ပတ်သက်၍ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ကျွန်တော်တို့၏ **WINTER STAR ENTERPRISE** သည် ရန်ကုန်တိုင်း၊ မင်္ဂလာဒုံမြို့နယ်၊ တပ်မတော် အထည်ချုပ် စက်ရုံဝင်းအတွင်းရှိ မြေဧရိယာ(၀.၃၂)အကျယ်အဝန်းရှိသော မြေနေရာတွင် နိုင်ငံတကာအဆင့်မီ အဝတ်အထည် အမျိုးမျိုးချုပ်လုပ်သည့် စက်ရုံ ငှားရမ်းပြီး အစား ချုပ်လုပ်မှု စနစ်ဖြင့် လုပ်ငန်း လုပ်ကိုင်၍ နိုင်ငံခြားသို့ ပြန်လည်တင်ပို့ပြီး နိုင်ငံခြားငွေ ရရှိရန် ခေတ်မီ နည်းပညာ၊ စက်ကိရိယာများဖြင့် ပြုလုပ်ခွင့် ရရှိရန် ရည်ရွယ်၍ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ခွင့်ပြုမိန့် လျှောက်ထားသော ကုမ္ပဏီ ဖြစ်ပါသည်။

၂။ ကျွန်တော်တို့၏ ကုမ္ပဏီ လီမိတက်သည် နိုင်ငံတကာအဆင့်မီ အဝတ်အထည် အမျိုးမျိုး ချုပ်လုပ်ခြင်း အတွက် လိုအပ်မည့် စက်ကိရိယာများကို ပြည်တွင်းမှ ဝယ်ယူပြီး အရင်းအနှီး အဖြစ် ထည့်ဝင်ပြီး ဖြစ်ပါသည်။

၃။ ကျွန်တော်တို့၏ ကုမ္ပဏီ လီမိတက် အနေဖြင့် ယခုအဆိုပြု လုပ်ငန်းအတွက် ကျော်ညရင်းနှီးငွေ စုစုပေါင်း ကျပ် သန်းပေါင်း ( ၁၀.၂၇ ) သန်းကို မြန်မာကျပ်ငွေ၊ စက်ပစ္စည်းများဖြင့် ထည့်ဝင်ပြီး ရင်းနှီး မြှုပ်နှံကြမည် ဖြစ်ပါသည်။ ချုပ်လုပ်ဖြန့်ဖြူး ရောင်းချ၍ ရရှိလာသော အမြတ်ငွေများကိုလည်း မြန်မာနိုင်ငံတော် အတွင်း အခြား ခွင့်ပြုထားသည့် စီးပွားရေး လုပ်ငန်းများတွင် ပြန်လည် ရင်းနှီးမြှုပ်နှံသွားရန် ရည်ရွယ်ပါသည်။ ချုပ်လုပ် ရရှိလာသော ကမ္ဘာ့ အဆင့်အတန်းမီ အဝတ်အထည် အမျိုးမျိုးကို နိုင်ငံခြားသို့ တင်ပို့မည် ဖြစ်ပါသည်။

၄။ သို့ဖြစ်ပါ၍ နိုင်ငံတော်အတွင်း ရသင့်ရထိုက်သော အခွန် ဘဏ္ဍာငွေများ ရရှိစေရန် အတွက် လည်းကောင်း၊ မြန်မာနိုင်ငံသားများအတွက် အလုပ်အကိုင် အခွင့်အလမ်းများ ရရှိစေရန် အတွက် လည်းကောင်း၊ စက်မှုနည်းပညာ တိုးပွားရရှိစေရန် အတွက် လည်းကောင်း၊ နိုင်ငံသားများ စီးပွားရေး ဖွံ့ဖြိုးတိုးတက်စေခြင်း အလို့ငှာ လည်းကောင်း၊ ကျွန်တော်တို့ **WINTER STAR ENTERPRISE** ၏ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ခွင့်ပြုမိန့် လျှောက်ထားခြင်းကို လက်ခံစဉ်းစား ပေးပါရန်နှင့် ပြည်ထောင်စု မြန်မာနိုင်ငံတော် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၁၂ နှင့် ၁၃ တို့အရ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့်များနှင့် သက်သက်ခွင့်များကိုလည်း ပေးပါရန် ရိုသေလေးစားစွာဖြင့် လျှောက်ထား တင်ပြအပ်ပါသည်။

